ရက်စွဲ။ ၂၇-၁၁-၂၀၁၉

CNTIC VPower KY3 Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်းလျှောက်ထားလွှာ တင်ပြခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်းလျှောက်ထားလွှာ အပေါ်အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အား လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာနမှ တင်ပြလာခြင်း | ၈-၁၁-၂၀၁၉ | | |
| ၄ | အဆိုပြုချက်အား ကုမ္ပဏီမှ တင်ပြလာ ခြင်း | - | ၁၃-၁၁-၂၀၁၉ | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရ မည့် အချက်များ အကြောင်းကြားခြင်း | - | | |
| ၆ | ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး သို့ သဘောထားမှတ်ချက်တောင်းခံခြင်း | ၂၀-၁၁-၂၀၁၇ | | |
| ၇ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့ တင်ပြခြင်း | ၄၀/၂၀၁၉ (၂၅-၁၁-၂၀၁၉) | | |
| ၈ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | - | | |
| ၉ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည် ပေးပို့ခြင်း | ၂၇-၁၁-၂၀၁၉ | | |
| ၁၀ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၉/၂၀၁၉ (၂၉-၁၁-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | ၁၅ ရက် | | |

အကြောင်းအရာ။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CNTIC VPower KY3 Limited မှ IPP (BOO) စနစ်ဖြင့် ၁၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင် ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - CNTIC VPower KY3 Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Lo Siu Yuen |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- CV Myanmar KY3 Limited (ဟောင်ကောင်) ၁၀၀ % |
| | လုပ်ငန်းအမျိုးအစား | - IPP (BOO) စနစ်ဖြင့် ၁၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ကွင်းအမှတ် ၄၅၃၊ ကံတီကွင်း၊ ဂုံးချိန်ကျေးရွာအုပ်စု ကျောက်ဖြူမြို့နယ်၊ ကျောက်ဖြူခရိုင်၊ ရခိုင်ပြည်နယ် |
| ၃။ | မြေပိုင်ရှင် | - ဦးစောတင်၊ ဦးဇော်နောင်ထွန်း |
| | မြေအကျယ်အဝန်း | - ၂၁ ဧက |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်တစ်ဧကလျှင် ကျပ် ၉၆ သိန်း |
| | မြေအသုံးပြုခွင့်သက်တမ်း | - ၆ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၅ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - US$ ၁၄၀.၄၇၀ သန်း |
| | **ထည့်ဝင်သည့်အမျိုးအစား** | **စုစုပေါင်း US$(သန်း)** |
| | ငွေသား | ၄.၄၄၀ |
| | စက်စွည်းတင်သွင်းမည့် ငွေသားတန်ဖိုး | ၁၃၆.၀၃၀ |
| | **စုစုပေါင်း** | **၁၄၀.၄၇၀** |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % |

| | | ထုတ်လုပ်မည့် လျှပ်စစ်ဓါတ်အား (ကီလိုဝပ်နာရီသန်းပေါင်း) | တစ်ယူနစ်ဈေးနှုန်း အခွန်မပါ (US$) | ရရှိမည့်ဝင်ငွေ US$(သန်း) |
|---|---|---|---|---|
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | ၆၅၈.၈၀၀ | ၀.၁၂ | ၈၁.၅၆၅ |

| | | | ပြည်တွင်း(US$) | ပြည်ပ (US$) |
|---|---|---|---|---|
| ၉။ | ဝန်ထမ်းခန့်ထားမှု | ဦးရေ | ၁၂၄ | ၂၄ |
| | | အမြင့်ဆုံးလစာ | ၂၇၈ | ၂၁၈၄ |
| | | အနိမ့်ဆုံးလစာ | ၁၂၇ | ၁၈၀၀ |

| | | |
|---|---|---|
| ၁၀။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် VPower Group International Holdings Limited မှ Standard Chartered Central Branch (Hong Kong) ၌ ၂၇-၉- ရက်စွဲဖြင့် ဟောင်ကောင်ဒေါ်လာ ၆၆၃၈၂၅.၀၄ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | CSR | - လူမှုရပ်ရွာ အကျိုးပြုမှုအစီအစဉ်အနေဖြင့်အသားတင်အမြတ်မှ ၂% သုံးစွဲသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | အခြားတင်ပြချက် | - လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့်တင်ဒါအောင်မြင်သော Consortium of CNTIC and VPower ကုမ္ပဏီတို့အကြား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၆ ရက်နေ့ ရက်စွဲ ဖြင့် လက်မှတ်ရေးထိုးထားသော Letter of Acceptance- LOA အားတင်ပြထားပါသည်။<br>- CNTIC VPower KY3 Limited ၏ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၊ Layout Plan, ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက် (Environmental Impact Assessment-EIA)အား လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်မည် ဖြစ်ကြောင်းနှင့် မီးဘေး ကြိုတင်ကာကွယ်ရေး အစီအစဉ် တို့အား တင်ပြထားပါသည်။<br>- လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of CNTIC and VPower တို့အကြား ချုပ်ဆိုမည့် လျှပ်စစ်ဓါတ်အားဝယ် ယူရေးစာချုပ် (Power Purchase Agreement) (မူကြမ်း) အားတင်ပြထားပါသည်။ |

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(လ)/ခ-၀၁၀/၂၀၁၉( ၅၃၈ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CNTIC VPower KY3 Limited တည်ထောင်ပြီး IPP (BOO) စနစ်ဖြင့် ၁၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံးဓာတ်အား ပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာ ခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဟောင်ကောင်မှ CV Myanmar KY3 Limited သည် မြန်မာနိုင်ငံတွင် CNTIC VPower KY3 Limited တည်ထောင်ပြီး ကွင်းအမှတ် ၄၅၃၊ ကံတီးကွင်း၊ ဂုံးချိန်ကျေးရွာအုပ်စု၊ ကျောက်ဖြူမြို့နယ်၊ ကျောက်ဖြူခရိုင်၊ ရခိုင်ပြည်နယ်တွင် IPP (BOO) စနစ်ဖြင့် ၁၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ် လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

**နောက်ဆက်တွဲ-က**

၂။ အဆိုပြုချက်နှင့်အတူ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of China National Technical Import & Export Corporation, VPower Group Holdings Ltd., VPower Holdings Limited တို့အကြား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၆ ရက်နေ့ ရက်စွဲဖြင့် ချုပ်ဆိုထားသော Letter of Acceptance (LOA)နှင့် လျှပ်စစ်ဓာတ်အားဝယ်ယူရေး စာချုပ် (မူကြမ်း)တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင်များကိုယ်စား ဦးစောတင်၊ ဦးဇော်နိုင်ထွန်း နှင့် CNTIC VPower KY3 Limited တို့အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် မြေဆိုင်ရာ အထောက်အထားများအားတင်ပြထားပါသည်။ မြေငှားရမ်းသက်တမ်းမှာ ကနဦး ၁ နှစ်ဖြစ်ပြီး၊ ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးနောက် လုပ်ငန်းသက်တမ်းနှင့်အညီ တိုးမြှင့်ချုပ်ဆိုသွားမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၂၁ ဧကအား ငှားရမ်း၍ နှစ်စဉ်မြေငှားရမ်းခမှာ တစ်နှစ် တစ်ဧကလျှင် ကျပ် ၉၆ သိန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလနှင့် ဓာတ်အားပေးစက်ရုံ ငှားရမ်းသည့် ကာလမှာ စီးပွား ဖြစ်လုပ်ငန်း စတင်လည်ပတ်သည့်နေ့မှစ၍ လပေါင်း ၆၀ ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၄၀.၄၇၀ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

**ကန့်သတ်**

| | စုစုပေါင်း US$ သန်း |
|---|---|
| ငွေသား | ၄.၄၄၀ |
| စက်ပစ္စည်းတင်သွင်းမည့် ငွေသားတန်ဖိုး | ၁၃၆.၀၃၀ |
| **စုစုပေါင်း** | **၁၄၀.၄၇၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၂၄ ဦး၊ ပြည်ပဝန်ထမ်း ၂၄ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၂၇ နှင့် အမြင့်ဆုံးလစာမှာ US$ ၂၇၈ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၈၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၂၁၈၄ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ပြည်တွင်းတွင် ၁၀၀% ရောင်းချ မည်ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား (ပထမနှစ်) တွင် ကီလိုဝပ်နာရီသန်းပေါင်း ၆၅၈.၈၀၀ ထုတ်လုပ်မည် ဖြစ်ပြီး ဓာတ်အားခ တစ်ယူနစ်လျှင် US$ ၁၃ cents နှုန်းဖြင့် ရောင်းချမည်ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရခိုင်ပြည်နယ်အစိုးရအဖွဲ့သို့ ၂၀၁၉ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့ ရက်စွဲဖြင့် သဘောထားမှတ်ချက် တောင်းခံထားပါသည်။

၉။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of China National Technical Import & Export Corporation, VPower Group Holdings Ltd., VPower Holdings Limited တို့ကြား ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အားဝယ်ယူရေးစာချုပ် (မူကြမ်း) အားတင်ပြထားပါသည်။ အဆိုပါ စာချုပ် (မူကြမ်း)ပါ အဓိကအချက်အလက်များမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

(က) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းသည် ဓာတ်အားခွဲရုံ တည်ဆောက်ရန်အတွက် လိုအပ်သည့် မြေနေရာရရှိရန်နှင့် အခြားသက်ဆိုင်ရာ ဝန်ကြီးဌာနများမှ လိုအပ်သည့် အထောက်အထားများ၊ ခွင့်ပြုချက်များရယူရာတွင် ကူညီပေးရမည်ဖြစ်သည်။ **အပိုဒ် ၃.က အပိုဒ်ခွဲ (၁,၂)**

(ခ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းသည် capacity charges fuel charges and other payments ကို ပေးချေသည့်နေ့တွင် မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ သတ်မှတ်သည့်ငွေလဲနှုန်းဖြင့်လစဉ်ပေးချေရမည်ဖြစ်ပါသည်။ **အပိုဒ်-၄(စ)**

(ဂ) လျှပ်စစ်ဓာတ်အားပေးစက်ရုံ ငှားရမ်းသည့်သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အသက်ဝင်မည်ဖြစ်ပြီး စီးပွားဖြစ်လုပ်ငန်း စတင်လည်ပတ်သည့်နေ့မှစ၍ ဖျက်သိမ်းခြင်း သို့မဟုတ် တိုးချဲ့ခြင်းမဆောင်ရွက်ပါကလပေါင်း ၆၀ ဖြစ်သည်။ နှစ်ဦးနှစ်ဖက်သဘောတူညီမှုဖြင့် သက်တမ်းတိုးမြှင့်နိုင်သည်။ **အပိုဒ်-၆(က)**

(ဃ) ကုမ္ပဏီသည်LNGရရှိနိုင်မှုအားတာဝန်ယူဆောင်ရွက်ရမည်ဖြစ်ပါသည်။ **အပိုဒ်၇-ခ (၁)**

၁၀။ ငွေကြေးအထောက်အထားအဖြစ် VPower Group International Holdings Limited မှ Standard Chartered Central Branch (Hong Kong) ၌ ၂၇-၉-၂၀၁၉ ရက်စွဲဖြင့် ဟောင်ကောင်ဒေါ်လာ ၆၆၃,၈၂၅.၀၄ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းအား ၂၀၁၉ ခုနှစ် နိုဝင်ဘာလ ၂၅ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ (၄၀/၂၀၁၉) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီးပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းမှ ဝန်ထမ်းများ လူမှုဖူလုံရေးနှင့် သက်သာချောင်ချိမှု ဆောင်ရွက်မည့် အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) အဆိုပြု စီမံကိန်း၏ ဓာတ်အားပေးစက်ရုံ၊ Floating Storage Unit၊ အခြေခံ အဆောက်အအုံများနှင့် ဆက်စပ်သော စက်ပစ္စည်းများအား စီမံကိန်းပြီးဆုံးပါက ကုမ္ပဏီမှ ပိုင်ဆိုင်မည်ဖြစ်ကြောင်းနှင့် စက်ရုံဝန်းပြင်ပရှိ အသစ်တည်ဆောက်ထား သော ဓာတ်အားပေးစနစ်နှင့် transmission line အား EPGE သို့ အခမဲ့လွှဲပြောင်း ရမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) ကုမ္ပဏီနှင့် ၅ နှစ်စာ ဓာတ်အားဝယ်ယူရေးစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် သက်ဆိုင်ရာ ဌာနများသို့ စာချုပ်မူကြမ်းပေးပို့၍ သဘောထားမှတ်ချက်များတောင်းခံခဲ့ပြီး အဆိုပါ သဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အား ပြင်ဆင်နိုင်ရေး ကုမ္ပဏီနှင့် ညှိနှိုင်း ဆောင်ရွက်လျှက်ရှိကြောင်းနှင့် Gas Engine နှင့် ဆက်စပ်ပစ္စည်းများ အချိန်မီ တင်သွင်း နိုင်ရေးအတွက် လိုအပ်သလို ကူညီဆောင်ရွက်ပေးနိုင်ပါရန် လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာနမှ ၂၀၁၉ ခုနှစ် နိုဝင်ဘာလ ၁၈ ရက်နေ့ ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။

**နောက်ဆက်တွဲ-ခ**

(င) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေသည် လယ်မြေနှင့် ဥယျာဉ်မြေအမျိုးအစားများ ဖြစ်သောကြောင့် လယ်ယာမြေအား အခြားနည်းအသုံးပြုခွင့်ကို ကျောက်ဖြူမြို့နယ် လယ်ယာမြေစီမံခန့်ခွဲရေးကော်မတီသို့ တင်ပြလျှောက်ထားဆဲဖြစ်ကြောင်း လျှပ်စစ်ဓာတ် အားထုတ်လုပ်ရေးလုပ်ငန်းမှ တင်ပြထားပါသည်။ **နောက်ဆက်တွဲ-ဂ**

**ဆုံးဖြတ်ရန်အချက်**

၁၃။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CNTIC VPower KY3 Limited မှ IPP (BOO) စနစ်ဖြင့် ၁၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြ လာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ




နောက်ဆက်တွဲ-က



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ MOEE- ၂ /(၁၅)/(c)/(VPower)( ၁၈၄၈၀ ) /၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ နိုဝင်ဘာ လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **CNTIC VPOWER KY3 LIMITED မှ ကျောက်ဖြူဒေသတွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် ဓာတ်အားပေးစက်ရုံ တည်ဆောက်ခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် လျှောက်ထားခြင်းအား ထောက်ခံတင်ပြခြင်းကိစ္စ**

၁။ ၂၀၂၀ ခုနှစ်၊ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် နိုင်ငံတော်၏ လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို အချိန်မီဖြည့်ဆည်းပေးနိုင်ရန် ဓာတ်အားပေးစက်ရုံစီမံကိန်း(၅)ခုကို Independent Power Producer, Build Operate Own (IPP/BOO)စနစ်ဖြင့် (၅)နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဝယ်ယူနိုင်ရန်အတွက် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၂/၂၀၁၉)၏ သဘောတူ ဆုံးဖြတ်ချက်ဖြင့် ၂၈-၆-၂၀၁၉ ရက်မှစ၍ တင်ဒါခေါ်ဆိုဆောင်ရွက်ခဲ့ပါသည်။

၂။ အထက်ပါ စီမံကိန်း(၅)ခုအနက် ကျောက်ဖြူ(၁၅၀)မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံ စီမံကိန်းအတွက် တစ်ယူနစ် စုစုပေါင်း ဈေးနှုန်းအနည်းဆုံးဖြင့် ဆောင်ရွက်မည့် The Consortium of CNTIC and VPower အား တင်ဒါအောင်မြင်သူအဖြစ် သတ်မှတ်၍ စီမံကိန်း စတင်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေး Letter of Acceptance (LOA) ကို ၆-၉-၂၀၁၉ ရက်နေ့တွင် ထုတ်ပေးခဲ့ပြီး အဆိုပါကုမ္ပဏီအဖွဲ့မှ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

၃။ ထို့အပြင် The Consortium of CNTIC and VPower သည် China National Technical Import & Export Corporation, VPower Group Holdings Ltd. နှင့် VPower Holdings Ltd ကုမ္ပဏီများဖြင့် ဖွဲ့စည်းထားပြီး၊ ဓာတ်အားဝယ်ယူရေးစာချုပ်ချုပ်ဆိုနိုင်ရေးနှင့် ဓာတ်အားပေးစက်ရုံ တည်ဆောက် ခြင်း၊ မောင်းနှင်ခြင်းများ ဆောင်ရွက်နိုင်ရန် (၃-၁၀-၂၀၁၉)ရက်နေ့တွင် CNTIC VPOWER KY3 LIMITED အမည်ဖြင့် Project Company တည်ထောင်ခဲ့ပါသည်။

၄။ ထို့နောက် အဆိုပါစီမံကိန်းအတွက် ဓာတ်အားဝယ်ယူရေးသဘောတူစာချုပ်ချုပ်ဆိုနိုင်ရေး ဌာနနှင့်ကုမ္ပဏီတို့အကြားနှစ်ဖက်သဘောတူညီပြီးဖြစ်သည့် စာချုပ်မူကြမ်းများအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန၊

မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်များသို့ပေးပို့၍ သဘောထား မှတ်ချက် တောင်းခံထားပါသည်။

၅။ သို့ဖြစ်ပါ၍ CNTIC VPOWER KY3 LIMITED မှ ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး မြန်မာနိုင်ငံအတွင်း လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားမှုအပေါ် လိုအပ်သလိုကူညီဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက်။ CNTIC VPOWER KY3 LIMITED ၏ ကျောက်ဖြူ ဓာတ်အားပေးစက်ရုံ စီမံကိန်းအတွက် အဆိုပြုတင်ပြချက် - (၁) အုပ်

ပြည်ထောင်စုဝန်ကြီး(လိုယ်ိမ်း)

(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်

နောက်ဆက်တွဲ-ခ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

| | |
|---|---|
| ဝင်စာအမှတ် | MA - 1507 |
| ရက်စွဲ | 20.11.2019 |

စာအမှတ်၊MOEE-၂/(၁၅)/(ကျောက်ဖြူ)/(၁၈၈၆၉ )/၂၀၁၉

ရက်စွဲ ၊၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ ရခိုင်ပြည်နယ် ၊ ကျောက်ဖြူမြို့နယ်တွင် တည်ဆောက်မည့် ၁၅၀ မဂ္ဂါဝပ် ကျောက်ဖြူဓာတ်အားပေးစက်ရုံအတွက် CNTIC VPower KY3 Limited မှ Gas Engine များနှင့်ဆက်စပ်ပစ္စည်းများအချိန်မီတင်သွင်းနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် ထောက်ခံတင်ပြခြင်းကိစ္စ

ရည်ညွှန်းချက် ။ ဤဝန်ကြီးဌာန၏ ၈-၁၁-၂၀၁၉ ရက်စွဲပါ စာအမှတ် - MOEE-၂/(၁၅)/(င)/(VPower) (၁၈၄၈၀)/၂၀၁၉

၁။ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်တွင် ၁၅၀ မဂ္ဂါဝပ် ကျောက်ဖြူဓာတ်အားပေး စက်ရုံအား CNTIC VPower KY3 Limited မှ တည်ဆောက်ပြီး၊ မြန်မာနိုင်ငံအတွင်း လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားမှုအပေါ် လိုအပ်သလိုကူညီဆောင်ရွက်ပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံခဲ့ပါသည်။

1516
19.11.19

၂။ အဆိုပါကုမ္ပဏီနှင့် (၅)နှစ်စာဓာတ်အားဝယ်ယူရေးစာချုပ်(Power Purchase Agreement ) ချုပ်ဆိုနိုင်ရေးအတွက် သက်ဆိုင်ရာဌာနများသို့ စာချုပ်မူကြမ်းများပေးပို့၍ သဘောထားမှတ်ချက်များ တောင်းခံခဲ့ပြီး၊ အဆိုပါသဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အားပြင်ဆင်နိုင်ရေး ကုမ္ပဏီနှင့် ညှိနှိုင်းဆောင်ရွက်လျက်ရှိပါသည်။

၃။ ဤဝန်ကြီးဌာနမှ CNTIC VPower KY3 Limited သို့ Letter of Acceptance (LOA) ထုတ်ပေးခဲ့သော ဖ-၉-၂၀၁၉ ရက်နေ့မှစ၍ ကုမ္ပဏီသည်စီမံကိန်းလုပ်ငန်းများကို စတင်အကောင်အထည်ဖော်ဆောင်ရွက်ခဲ့ရာ လက်ရှိတွင် စီမံကိန်းမြေနေရာအား ရှင်းလင်းပြီးစီးပြီဖြစ်၍ Gas Engine များတည်ဆောက်နိုင်ရန် Civil Works များဆောင်ရွက်လျက်ရှိပါသည်။ ထို့အပြင်စီမံကိန်းတွင် တပ်ဆင်အသုံးပြုမည့် ပူးတွဲစာရင်းပါ Gas Engines နှင့်ဆက်စပ်ပစ္စည်းများမှာ မြန်မာနိုင်ငံသို့ တင်သွင်းရန် အဆင်သင့်ဖြစ်နေပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့်ထုတ်

ကန့်သတ်

ပေးရရှိပါက မြန်မာနိုင်ငံသို့အလျင်အမြန်ပို့ဆောင်၍ စီမံကိန်းတွင် တပ်ဆင်တည်ဆောက်သွားမည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်တွင် တည်ဆောက်မည့် ၁၅၀ မဂ္ဂါဝပ် ကျောက်ဖြူဓာတ်အားပေးစက်ရုံအတွက် လုပ်ငန်းဆောက်ရွက်မည့် CNTIC VPower KY3 Limited မှ Gas Engines နှင့် ဆက်စပ်ပစ္စည်းများ အချိန်မီတင်သွင်းနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရေး လိုအပ်သလို ကူညီဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲ။ ကျောက်ဖြူဓာတ်အားပေးစက်ရုံအတွက်တင်သွင်းမည့်ပစ္စည်းစာရင်း

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

# Annex 3 - List of imported Machinery & Equipment

**CNTIC VPOWER KY3 LIMITED**

**Proposal of the Promoter to make Foreign Investment in the Republic of the Union of Myanmar**

*Unit: USD unless otherwise stated*

| No. | Hscode | Description of Goods | UnitCode | Unit Price | Quantity | Value (USD) |
|---|---|---|---|---|---|---|
| 1 | 8502XXXX | 20FT HQ Containerized 1562kw Gas Generator Sets | Set | 713,000.00 | 66 | 47,058,000.00 |
| 2 | 8502XXXX | 20FT/40FT HQ Containerized 2026kw Gas Generator sets | Set | 855,000.00 | 30 | 25,650,000.00 |
| 3 | 8503XXXX | Gas Generator Sets Auxiliary Equipment (Pump module · Pressure Regulating Valve Assembly Fan Assembly · Rain hat · Exhaust pipe,Ladder,Air vent ) | Set | 58,000.00 | 96 | 5,568,000.00 |
| 4 | 8502XXXX | Black Start Diesel Generator Sets | Set | 250,000.00 | 6 | 1,500,000.00 |
| 5 | 8502XXXX | ORC House Power Generator | Set | 138,000.00 | 96 | 13,248,000.00 |
| 6 | 8503XXXX | Exhaust Gas Heat Exchanger | Set | 22,000.00 | 96 | 2,112,000.00 |
| 7 | 7304XXXX | Stainless Steel Pipeline (for ORC House Power Generator) | Set | 5,000.00 | 96 | 480,000.00 |
| 8 | 8504XXXX | Oil-immersed 40MVA 230/33KV Transformer | Set | 500,000.00 | 3 | 1,500,000.00 |
| 9 | 8504XXXX | Oil-immersed 65MVA 230/11KV Transformer | Set | 810,000.00 | 1 | 810,000.00 |
| 10 | 8504XXXX | Oil-immersed 3.6MVA 0.4/0.6/11/33KV Transformer | Set | 100,000.00 | 33 | 3,300,000.00 |
| 11 | 8504XXXX | Oil-immersed 2.5MVA 0.4/0.6/11/33KV Transformer | Set | 68,000.00 | 6 | 408,000.00 |
| 12 | 8504XXXX | Oil-immersed 800KVA 0.4/11kv Transformer | Set | 25,000.00 | 1 | 25,000.00 |
| 13 | 8503XXXX | Radiator | Set | 40,000.00 | 98 | 3,920,000.00 |
| 14 | 8537XXXX | Switchgear | Lot | 1,471,000.00 | 1 | 1,471,000.00 |
| 15 | 8537XXXX | Isolation Switch | Set | 284,000.00 | 3 | 852,000.00 |
| 16 | 8537XXXX | Low Voltage Control Panel | Lot | 660,000.00 | 1 | 660,000.00 |
| 17 | 9032XXXX | Gas Meter and Regulator Module | Set | 600,000.00 | 1 | 600,000.00 |
| 18 | 8537XXXX | 230kV Over Head Line System Equipment | Lot | 1,450,000.00 | 1 | 1,450,000.00 |

| | | | | | | |
|---|---|---|---|---|---|---|
| 19 | 8543XXXX | Central Control System | Lot | 162,000.00 | 1 | 162,000.00 |
| 20 | 8544XXXX | 300 sqmm 35KV Medium Voltage Power Cables | Meter | 36.00 | 6000 | 216,000.00 |
| 21 | 8544XXXX | 300 sqmm 10KV Medium Voltage Power Cables | Meter | 34.00 | 4500 | 153,000.00 |
| 22 | 8544XXXX | 70 sqmm 35KV Medium Voltage Power Cables | Meter | 22.80 | 1100 | 25,080.00 |
| 23 | 8544XXXX | 70 sqmm 10KV Medium Voltage Power Cables | Meter | 14.52 | 9800 | 142,296.00 |
| 24 | 8544XXXX | 0.6/1KV Low Voltage Power Cables | Meter | 4.00 | 3000 | 12,000.00 |
| 25 | 8544XXXX | 300 sqmm Low Voltage Power Cables | Meter | 25.20 | 25000 | 630,000.00 |
| 26 | 8544XXXX | 3x70 sqmm Low Voltage Power Cables | Meter | 21.64 | 5500 | 119,020.00 |
| 27 | 8544XXXX | 3x50 sqmm Low Voltage Power Cables | Meter | 28.80 | 9000 | 259,200.00 |
| 28 | 8544XXXX | 95 sqmm Low Voltage Power Cables | Meter | 9.60 | 5000 | 48,000.00 |
| 29 | 8544XXXX | Two-core Shielding Wire | Meter | 0.48 | 19825 | 9,516.00 |
| 30 | 8544XXXX | 10X1 sqmm Low Voltage Power Cables | Meter | 1.80 | 17000 | 30,600.00 |
| 31 | 8544XXXX | 1.5 sqmm Low Voltage Power Cables | Meter | 0.36 | 17000 | 6,120.00 |
| 32 | 8544XXXX | 2.5 sqmm Low Voltage Power Cables | Meter | 0.36 | 13500 | 4,860.00 |
| 33 | 7308XXXX | Cable Ladder | Lot | 218,000.00 | 1 | 218,000.00 |
| 34 | 8427XXXX | Forklift | Set | 42,000.00 | 1 | 42,000.00 |
| 35 | 8426XXXX | Electric Single Beam Crane | Set | 16,700.00 | 1 | 16,700.00 |
| 36 | 8458XXXX | Lathe | Set | 10,220.00 | 1 | 10,220.00 |
| 37 | 8535XXXX | Lightning Arrester | Lot | 50,400.00 | 1 | 50,400.00 |
| 38 | 9405XXXX | Street lamp | Lot | 46,820.00 | 1 | 46,820.00 |
| 39 | 8424XXXX | Fire systems with accessories | Lot | 85,000.00 | 1 | 85,000.00 |
| 40 | 7303XXXX | Gas Pipe | Lot | 186,200.00 | 1 | 186,200.00 |
| 41 | 8503XXXX | Equipment and Installation Accessories For Power Plant Install Tools (Circuit Breakers, Electric Welder, Valves ,Screw ,Pipes, High Pressure Cleaning Machine, Wrench ) | Lot | 430,500.00 | 1 | 430,500.00 |
| 42 | 7216XXXX | I-beam and Iron plate | Lot | 235,000.00 | 1 | 235,000.00 |
| 43 | 9406XXXX | 20FT HQ SOC Container | Unit | 12,500.00 | 7 | 87,500.00 |

| | | | | | | |
|---|---|---|---|---|---|---|
| 44 | 9406XXXX | 40FT HQ SOC Container | Unit | 14,500.00 | 38 | 551,000.00 |
| 45 | 7309XXXX | 40FT HQ Containerized Tank | Unit | 11,000.00 | 6 | 66,000.00 |
| 46 | TBC | Equipment, Power Plant Auxiliary Equipment, Installation Accessories for Power Plant and Engineering Vehicle | Lot | 21,579,122 | 1 | 21,579,122 |
| | | **Total** | | | | **136,034,154** |

Remarks: Item 46 will be clearly itemised with HSCode, Description, Quantity and Price upon confirmation.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

စာအမှတ်၊ ၄၀၄ / ဥမရ-ပစအ (KP) /၂၀၁၉

ရက်စွဲ ၊ ၂ ၀ ၁ ၉ ခုနှစ်၊ နိုဝင်ဘာလ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ကျောက်ဖြူ(၁၃၅)မဂ္ဂါဝပ်ဓာတ်အားပေးစက်ရုံစီမံကိန်း မြေနေရာကိစ္စဆောင်ရွက်ထားရှိမှုအခြေအနေအား တင်ပြခြင်းကိစ္စ**

၁။ ကျောက်ဖြူ ၁၃၅ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံစီမံကိန်းလုပ်ငန်းများ စတင်အကောင်ထည်ဖော်ဆောင်ရွက်နိုင်ရန် တင်ဒါအောင်မြင်သော Consortium of China National Technical Import & Export Corporation, VPower Group Holdings Ltd and VPower Holdings Ltd အား လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ Letter of Acceptance (LoA) ကို ၆-၉-၂၀၁၉ ရက်နေ့တွင်ထုတ်ပေးခဲ့ပြီး စီမံကိန်းလုပ်ငန်းများစတင်ဆောင်ရွက်စေခဲ့ပါသည်။

၂။ ထို့အပြင် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ရခိုင်ပြည်နယ်အစိုးအရအဖွဲ့သို့ ကျောက်ဖြူ ၁၃၅ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံကို ၃-၄-၂၀၂၀ ရက်နေ့တွင် စီးပွားဖြစ်စတင်လည်ပတ်နိုင်ရန် ဆောင်ရွက်လျက်ရှိပြီးအချိန်မီပြီးစီးနိုင်ရေး စီမံကိန်းလုပ်ငန်းများအကောင်ထည်ဖော်ဆောင်ရွက်ရာတွင် လိုအပ်သည်များကူညီဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားခဲ့ပါသည်။

၃။ ထိုသို့ဆောင်ရွက်မှုများနှင့်အတူ စီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်နေသော ကုမ္ပဏီအဖွဲ့ကိုလည်း ဓာတ်အားပေးစက်ရုံတည်ဆောက်နိုင်ရန်အတွက် ကျောက်ဖြူမြို့နယ်၊ ဂုံးချိန်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၄၅၃)၊ တောင်သူဦးလှဖြူသံပါ (၄)ဦး ပိုင်ဆိုင်သော မြေ (၂၁) ဧကအား ၁၀-၁၀-၂၀၁၉ ရက်နေ့တွင် (၆)နှစ် စာချုပ်ချုပ်ဆိုငှားရမ်းစေခဲ့ပါသည်။ အဆိုပါမြေသည် လယ်မြေနှင့် ဥယျာဉ်မြေအမျိုးအစားဖြစ်သောကြောင့် လယ်ယာမြေအားအခြားနည်းအသုံးပြုခွင့်ကို ကျောက်ဖြူမြို့နယ် လယ်ယာမြေစီမံခန့်ခွဲရေးကော်မတီသို့ ၁-၁၁-၂၀၁၉ ရက်နေ့တွင်တင်ပြလျှောက်ထားစေခဲ့ပြီးနောက် အဆင့်ဆင့်ဆောင်ရွက်ရမည့်လုပ်ငန်းစဉ်များကိုလည်း ဆက်လက်လုပ်ဆောင်စေခဲ့ပါသည်။

၄။ သို့ဖြစ်ပါ၍ ကျောက်ဖြူ (၁၅၀)မဂ္ဂါဝပ်ဓာတ်အားပေးစက်ရုံစီမံကိန်း မြေနေရာကိစ္စဆောင်ရွက်ထားရှိမှုအခြေအနေအား သိရှိနိုင်ပါရန်နှင့် လိုအပ်သည်များကိုကူညီဆောင်ရွက်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ပူးတွဲလျက် - လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ရခိုင်ပြည်နယ်အစိုးရအဖွဲ့သို့ ညှိနှိုင်းစာ

26.4.2019

သန်းနိုင်ဦး

ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူကို

ရုံးလက်ခံ

ကန့်သတ်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ ၂၆၀၈

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန ၂၈-၁၀-၁၉

စာအမှတ်၊MOEE-၃/(၃၀၄-၃)(အစိုးရ-၁)( ၁၇၅၇ )/၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ အောက်တိုဘာလ ၂၅ ရက်

သို့

ရခိုင်ပြည်နယ်အစိုးရအဖွဲ့

အကြောင်းအရာ။ **ကျောက်ဖြူ (၁၅၀)မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံစီမံကိန်းကို အချိန်မီပြီးစီးနိုင်ရေး စီမံကိန်းလုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လိုအပ်သည်များ ကူညီဆောင်ရွက်ပေးနိုင်ပါရန်ကိစ္စ**

၁။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနအောက်ရှိ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းအနေဖြင့် ၂၀၂၀ ခုနှစ်၊ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် နိုင်ငံတော်၏ လျှပ်စစ်ဓာတ်အား လိုအပ်ချက်ကို အချိန်မီဖြည့်ဆည်းပေးနိုင်ရန်အတွက် ဓာတ်အားပေးစက်ရုံစီမံကိန်း(၇)ခုအား ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၉)၏ သဘောတူဆုံးဖြတ်ချက်ဖြင့် အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါသည်။

၂။ အထက်ဖော်ပြပါ ဓာတ်အားပေးစက်ရုံစီမံကိန်း(၇)ခုအနက် တစ်ခုအပါအဝင်ဖြစ်သော ကျောက်ဖြူ(၁၅၀)မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံစီမံကိန်းကို အချိန်မီပြီးစီးနိုင်ရေး ဤဌာနမှ အဆိုပါစီမံကိန်း၏ First Rank Bidder ဖြစ်သော Consortium of China National Technical Import & Export Corporation, VPower Group Holdings Ltd and VPower Holdings Ltd သို့စီမံကိန်းစတင်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေး Letter of Acceptance (LOA) ကို ၆-၉-၂၀၁၉ ရက်နေ့တွင် ထုတ်ပေးခဲ့ပြီး အဆိုပါကုမ္ပဏီအဖွဲ့မှ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

၃။ အဆိုပါဓာတ်အားပေးစက်ရုံကို ၃-၄-၂၀၂၀ ရက်နေ့တွင် စီးပွားဖြစ်စတင်လည်ပတ်နိုင်ရန် အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိပြီး လက်ရှိအချိန်တွင် စီမံကိန်းမြေနေရာရှင်းလင်းခြင်း လုပ်ငန်းများ စတင်ဆောင်ရွက်နေပြီဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ အဆိုပါဓာတ်အားပေးစက်ရုံကို သတ်မှတ်ချိန်အတွင်း အချိန်မီပြီးစီးနိုင်ရေး စီမံကိန်းလုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လိုအပ်သည်များ ကူညီဆောင်ရွက်ပေးနိုင်ပါရန်ညှိနှိုင်းအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( )

(တင်မောင်ဦး၊အမြဲတမ်းအတွင်းဝန် )

ကန့်သတ်